ကုမ္ပဏီအမည် ။ ရိုးဗားကုမ္ပဏီလီမိတက်

လုပ်ငန်း ။ နိုင်ငံတကာအဆင့်မီ အမျိုးသားနှင့်အမျိုးသမီးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း(ကျောက်ဆည်စက်ရုံ-၃)

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၄-၁၀-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂-၁၁-၂၀၁၅ | ၉-၁၂-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၂-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၂-၁၁-၂၀၁၅ | ၁၈-၁၁-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေးတင်ပြခြင်း (၃၈/၂၀၁၅) | ၁၉-၁၀-၂၀၁၅ | - | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြား ခြင်း | ၁၉-၁၀-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၃-၁၁-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှပြင်ဆင်ပြီးအဆိုပြုလွှာ ပေးပို့ခြင်း | ၁၄-၁၂-၂၀၁၅ | | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | **(၆၁)ရက်** | | |

**အကြောင်းအရာ။** **ရှီးဗားကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာ အဆင့်မီ အမျိုးသားနှင့်အမျိုးသမီးစီး ဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကျောက်ဆည်စက်ရုံ-၃)အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရှီးဗားကုမ္ပဏီ လီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးမြင့်သိန်း(ခ)ကြုံလင်(အဘ-ဦးမောင်မောင်သန်း) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာ အဆင့်မီ အမျိုးသားနှင့် အမျိုးသမီးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(ကျောက်ဆည်စက်ရုံ-၃) |
| ၄။ | လုပ်ငန်းတည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း(ယာဉ်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည် မြို့နယ်၊ ကျောက်ဆည် စက်မှုဇုန်၊ ဖိနပ်စက်ရုံ (ကျောက်ဆည်)ရှိ မြေဧရိယာ (၂၇.၉၇) ဧက |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာဉ်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂၇.၉၇ ဧက (၁၁၃၁၉၀.၆၇စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၀၀ပေ x ၃၀၀ ပေ (သုံးထပ်အဆောက်အဦ၁လုံးဆောက်လုပ်မည်ဖြစ်ပါသည်။) |
| | မြေငှားသက်တမ်း | - ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၆၀ သန်း |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **- ကျပ် ၈၈၉၇.၀၁ သန်း (US$ ၀.၅၇၀ သန်း အပါအဝင်)** |
| | -ငွေသား | ကျပ် ၃၃၂၀.၄၃ သန်း |
| | - အဆောက်အဦပြုပြင်မွမ်းမံစရိတ် | ကျပ် ၂၉၄၉.၄၅ သန်း |
| | - မြေနှင့်အဆောက်အဦငှားရမ်းခ | ကျပ် ၆၀.၀၀ သန်း |
| | -စက်နှင့်စက်ပစ္စည်း | ကျပ် ၂၁၄၄.၃၄ သန်း (US$ ၀.၅၇၀ သန်း အပါအဝင် ) |
| | -ရုံးလုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ကျပ် ၁၁၆.၄၉ သန်း |
| | -စက်ရုံသုံးပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းတန်ဖိုး | ကျပ် ၁၃၃.၃၃ သန်း |
| | -မော်တော်ယာဉ်စာရင်း | ကျပ် ၁၂၆.၇၆ သန်း |
| | -ပရိဘောဂပစ္စည်းစာရင်း | ကျပ် ၄၅.၂၀ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၁နှစ် ၆လ |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |

| | | |
|---|---|---|
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်)<br>အမျိုးအမည်<br>(Shoes, Slipper and Sandals)<br>- Men<br>- Lady | ထုတ်လုပ်မှု (Pair) / ရောင်းဈေးနှုန်း (Kyat/Pair)<br>၆၀၀,၀၀၀ / ၄,၀၀၀<br>၆၀၀,၀၀၀ / ၃,၃၀၀ |
| ၁၀။ | ဝင်ငွေ(၆ နှစ်မြောက်)<br>အသုံးစရိတ်(၆ နှစ်မြောက်)<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၄၃၈၀.၀၀ သန်း<br>ကျပ် ၃၉၁၂.၅၇ သန်း<br>ကျပ် ၄၆၇.၄၃ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား (ပထမနှစ်)<br>ပြည်တွင်း | - ၃၂၄ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀) |
| ၁၂။ | အရင်းကြေကာလ | - ၆ နှစ် ၇ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁၁ % |
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>-ဝင်ငွေခွန်<br>-ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၅၅.၈၁ သန်း<br>- ကျပ် ၂၀၈.၅၄ သန်း<br>(အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁၀၀၀ နှုန်း ဖြင့်တွက်ချက်ထားပါသည်) |
| ၁၅။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၁၀၀၀ KVA |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထား အဖြစ် ကမ္ဘောဇဘဏ် (ပုဇွန်တောင် ဘဏ်ခွဲ)တွင် ရီးဗားကုမ္ပဏီလီမိတက် အမည်ဖြင့် ၁၁-၁၂-၂၀၁၅ နေ့တွင် ငွေလက်ကျန် ကျပ်၉၆၅,၆၉၃,၁၆၁.၄၈ ရှိကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ဦးမြင့်သိန်းအမည်ဖြင့် (၇-၈-၂၀၁၅) နေ့တွင် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၆,၉၄၅.၉၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | အခြား | - ရီးဗားကုမ္ပဏီလီမိတက်၏သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း၊ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် အမှတ် ၁၆၉၁/၁၉၉၅-၁၉၉၆၊ ဒါရိုက်တာစာရင်းနှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသား စိစစ်ရေး ကတ်ပြား မိတ္တူများကို တင်ပြထားပါသည်။<br>- ရီးဗားကုမ္ပဏီလီမိတက်၏ ၂၀၁၄-၂၀၁၅(ဒုတိယလေးလပတ်) စာရင်းစစ်အစီရင်ခံစာ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ၁၉၉၉ခုနှစ် စက်တင်ဘာလ ၃ရက်နေ့ ရက်စွဲဖြင့် (KANGAROO) ကုန်အမှတ်တံဆိပ် အမှတ်အသားအား တစ်ဦးတည်းမူပိုင်အဖြစ်မှတ်ပုံတင်သွင်း ကြေငြာသည့် စာချုပ် တင်ပြထားပါသည်။<br>- ဖိနပ်စက်ရုံ (ကျောက်ဆည်)၏ တည်နေရာပြမြေပုံနှင့် ရီးဗားကုမ္ပဏီလီမိတက်သို့ နှစ်ရှည်ငှားရမ်းမည့် အဆောက်အဦ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဥ်နှင့် စက်ပစ္စည်းကိရိယာ စာရင်းများအား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ စက်မှုကုန်ထုတ်လုပ်သူများအသင်းနှင့် ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်တို့တွင် အသင်းဝင်ထားသည့် အသင်းဝင်လက်မှတ် တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) နှင့် ရီးဗားကုမ္ပဏီလီမိတက်တို့၏ (၁၂-၆-၂၀၁၂) ရက်စွဲဖြင့် ချုပ်ဆိုထားသော ဖိနပ်စက်ရုံ (ကျောက်ဆည်)အား ငှားရမ်းဆောင်ရွက်သည့် မူလ သဘောတူစာချုပ်၊ (၁၆-၇-၂၀၁၄) ရက်စွဲဖြင့် ချုပ်ဆိုထားသော သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်နှင့် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့်ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေး၊ အလုပ်သမားများ သက်သာ ချောင်ချိရေး အစီအစဥ် ၊ မီးဘေး ကာကွယ်ရေး အတွက် ဆောင်ရွက်ထားရှိမှု အစီအစဥ်များ၊ ဝန်ထမ်း၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန် ပေးသွင်းမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှုအစီအစဥ်များကိုလည်း တင်ပြထားပါသည်။ |
| ၁၈။ | စိစစ်တင်ပြချက် | - ရီးဗားကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် မနသ-၀၄၇/၉၆(၇-၁၁-၁၉၉၆) ဖြင့် မြေကွက်အမှတ် (၁၁၄)၊ ကနောင်မင်းသားကြီးလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်ဇုန်(၁)၊ စက်မှုဒေသ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင် ရော်ဘာဆိုးပြား၊ ရော်ဘာဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက် ရှိပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)နှင့် ရီးဗားကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသော ဖိနပ်စက်ရုံ (ကျောက်ဆည်)အား ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ရိုးဟား ကုမ္ပဏီလီမိတက် ဖိနပ်စက်ရုံ (ကျောက်ဆည်)သည် ယခင် EVAဆိုးလ်ပြား၊ EVA ခြေညှပ်ဖိနပ်များ၊ ရာဘာခြေညှပ်ဖိနပ်များနှင့် ရာဘာသဲကြိုးများ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းတို့ကို ဆောင်ရွက်လျက်ရှိပြီး ယခုအခါ ကျပ်၃,၄၃၀သန်း ထပ်မံရင်းနှီးမြှုပ်နှံ၍ PU Injection, EVA Injection, TPR Injection, PVC Injection စသည့် အဆင့်မြင့် ဖိနပ်အမျိုးမျိုးတိုးချဲ့ထုတ်လုပ်မည်ဖြစ်သည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - ရီးဗားကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာ အဆင့်မီ အမျိုးသားနှင့် အမျိုးသမီးစီးဖိနပ်များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(ကျောက်ဆည်စက်ရုံ-၃) |
| တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်စက်မှုဇုန်ရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၈၉၇.၀၁ သန်း (US$ ၀.၅၇၀ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - ကနဦးနှစ် ၅၀ (၁၀နှစ် ၂ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | - ၆ နှစ် ၇ လ |
| IRR | - ၁၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၈၅.၀၀ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၂၁၆.၆၄ |
| ၅ | ဝင်ငွေခွန် | ၁၇၈.၄၉ | ၁၄၂၂.၄၈ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၆၀၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း(၁၇)ဦး |
| ၈ | CSR (၂%) | - | ၅၅.၄၈ |
| ၉ | မြေနှင့်အဆောက်အဦငှားရမ်းခရငွေ | | ၄၂.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၃၂၄) ဦး အလုပ် အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၄၆၆.၄၉ သန်း | ကျပ် ၃၃၃၇.၇၈ သန်း |
| | Cost : Benefit | ၁ : ၇ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၃/မ-၁၂၇၈/၂၀၁၅(၁၅၉၀-က)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ရီးဗားကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာအဆင့်မီ အမျိုးသားနှင့် အမျိုးသမီး စီးဖိနပ်များ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း(ကျောက်ဆည်စက်ရုံ-၃)အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ရီးဗားကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း (ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) ကြီးကြပ်မှုအောက်ရှိ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်စက်မှုဇုန်၊ ဖိနပ်စက်ရုံ(ကျောက်ဆည်)၏ မြေဧရိယာ(၂၇.၉၇)ဧက (၁၁၃၁၉၀.၆၇ စတုရန်းမီတာ)အားငှားရမ်း၍ နိုင်ငံတကာအဆင့်မီ အမျိုးသားနှင့် အမျိုးသမီးစီးဖိနပ်များ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း (ကျောက်ဆည်စက်ရုံ-၃)ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြင့်သိန်း(ခ)ကြုံလင် (အဘ-ဦးမောင်မောင်သန်း)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁နှစ် ၆လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦ ငှားရမ်းသက်တမ်းမှာ ကနဦး နှစ်၅၀ နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ မြေဧရိယာ(၂၇.၉၇)ဧက (၁၁၃၁၉၀.၆၇စတုရန်းမီတာ)အတွက် ကျပ်သန်း ၆၀ ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မူလ ရင်းနှီးမြှုပ်နှံမှု တန်ဖိုး ကျပ်၅၄၆၇.၀၁၂သန်း အပြင် ထပ်မံ၍ ကျပ်၃၄၃၀.၀၀၀ သန်း ရင်းနှီးမြှုပ်နှံသဖြင့် အမေရိကန် ဒေါ်လာ(၀.၅၇၀)သန်း အပါအဝင် စုစုပေါင်း ကျပ်(၈၈၉၇.၀၁)သန်းဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေ အနေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | ကျပ် | ၃၃၂၀.၄၃ | သန်း |
| (ခ) | အဆောက်အဦပြုပြင်မွမ်းမံစရိတ် | ကျပ် | ၂၉၄၉.၄၅ | သန်း |
| (ဂ) | မြေနှင့်အဆောက်အဦငှားရမ်းခ | ကျပ် | ၆၀.၀၀ | သန်း |
| (ဃ) | စက်နှင့်စက်ပစ္စည်း | ကျပ် | ၂၁၄၄.၃၄ | သန်း(US$၀.၅၇၀သန်းအပါအဝင်) |
| (င) | ရုံးလုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ကျပ် | ၁၀၆.၄၉ | သန်း |
| (စ) | စက်ရုံသုံးပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းတန်ဖိုး | ကျပ် | ၁၃၃.၃၃ | သန်း |
| (ဆ) | မော်တော်ယာဥ်စာရင်း | ကျပ် | ၁၂၆.၇၆ | သန်း |
| (ဇ) | ပရိဘောဂပစ္စည်းစာရင်း | ကျပ် | ၄၅.၂၁ | သန်း |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် | ၈၈၉၇.၀၁ | သန်း (US$ ၀.၅၇၀သန်းအပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၃၂၄) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောဖိနပ်များကို ပြည်တွင်းတွင် ၁၀၀%ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း |
|---|---|---|
| (Shoes၊ Slipper and Sandals) | (Pair) | (Kyat/Pair) |
| - Men | ၆၀၀,၀၀၀ | ၄,၀၀၀ |
| - Lady | ၆၀၀,၀၀၀ | ၃,၃၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၃၈၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃၉၁၂.၅၇ |
| (ဂ) | အသားတင်အမြတ် | ၄၆၇.၄၃ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်(၁၅၅.၈၁)သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ်(၂၀၈.၅၄)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၁% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၀၀၀ကျပ်နှုန်းဖြင့် တွက်ချက်ထားပါ သည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏(၁၀-၈-၂၀၀၅)ရက်စွဲပါ အမိန့်အမှတ်(၂၂/၂၀၀၅)ဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ ဖိနပ်စက်ရုံအမည်ဖြင့် (လ/န-၃၉) ခွင့်ပြုမိန့် ရရှိထားကြောင်းနှင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေသဖြင့် (၃-၁၂-၂၀၁၅) ရက်နေ့ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၁/၂၀၁၅)

ဆုံးဖြတ်ချက် အပိုဒ်(၈၇) အရ ကန့်ကွက်ရန် မရှိကြောင်းနှင့် ဆောင်ရွက်သင့်သည့် လုပ်ငန်း တစ်ခုဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်-

(၁) ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility- CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(၂) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့်ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေရေးအတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)လုပ်ငန်းကို ဆောင်ရွက်ရန်၊ အဆိုပါ IEE အစီရင်ခံစာအပေါ် မူတည်၍ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည် ဖော်ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ(၁၆.၁၂.၂၀၁၅) ရက်စွဲပါစာဖြင့် IEE,EMP အစီရင်ခံစာ ရေးဆွဲတင်ပြရန် Green Myanmar Environmental Services Co.,Ltd. သို့အပ်နှံထားပြီးဖြစ်ကြောင်းတင်ပြထားပါသည်။ (နောက်ဆက်တွဲ - ခ)**

(ဂ) စက်မှုဝန်ကြီးဌာနမှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေ

နှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှသဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။** (နောက်ဆက်တွဲ - ဂ)

၉။ ကျပ်ငွေအထောက်အထားအဖြစ် ကမ္ဘောဇဘဏ် (ပုဇွန်တောင်ဘဏ်ခွဲ)တွင် ရီးဗားကုမ္ပဏီ လီမိတက် အမည်ဖြင့် (၁၁-၁၂-၂၀၁၅) နေ့တွင် ငွေလက်ကျန် ကျပ် ၉၆၅,၆၉၃,၁၆၁.၄၈ ရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် ဦးမြင့်သိန်းအမည်ဖြင့် (၇-၈-၂၀၁၅)နေ့တွင် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၆,၉၄၅.၉၄ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ စက်မှုဝန်ကြီးဌာနသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေကျပ် ၂၀သိန်းအထက် ရရှိသော ဝန်ထမ်းများ၏လစာဝင်ငွေအပေါ် ကျသင့်မည့် ဝင်ငွေခွန်များအား မှန်ကန်စွာတွက်ချက်၍ ပေးဆောင်ပါမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား ကြို/ပို့ယာဉ်များ စီစဉ်ပေးခြင်း၊ လူမှုဖူလုံရေးဥပဒေအရ ခံစားခွင့်များ အပြည့်အဝခံစားနိုင်ရန်နှင့် အလုပ်မှ အနားယူသည့်အခါ ပင်စင်ခံစားခွင့်များ ပေးနိုင်အောင် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အလုပ်ချိန်တွင် ဝန်ထမ်းများကို ကျန်းမာရေးနှင့် ကိုက်ညီသည့် အာဟာရပြည့်ဝသော အစားအစာများကို နေ့အလိုက် ကျွေးမွေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေး၊ သာရေး၊ နာရေး ကိစ္စရပ်များတွင် ကူညီပံ့ပိုးနိုင်ရန် ဆောင်ရွက်ထားရှိကြောင်းနှင့် နှစ်စဉ်အရာရှိဝန်ထမ်းများနှင့် အတတ်ပညာရှင်များအား နိုင်ငံခြားသို့ ပို့ဆောင်ပေးပြီး လုပ်ငန်းများကို လေ့လာစေခဲ့ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်ထရန်စဖော်မာများဖြင့် ကုန်ထုတ်လုပ်မှု စဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပသော (၃၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဈ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ၏ (၆/၂၀၁၂-၂၀၁၃) ခွင့်ပြုချက်အရ(၁၂-၆-၂၀၁၂) ရက်စွဲဖြင့် ချုပ်ဆိုထားသော ဖိနပ်စက်ရုံ(ကျောက်ဆည်)အား ငှားရမ်းဆောင်ရွက်သည့် မူလ သဘောတူစာချုပ်၏ ငှားရမ်းမည့် အချိန်ကာလမှာ (၁-၇-၂၀၁၂)မှ (၃၀-၆-၂၀၁၇) အထိ ၅ နှစ် သက်တမ်းဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း(စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) ကြီးကြပ်မှုရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)ကို ၂၄-၄-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၄) ၏ သဘောတူခွင့်ပြုချက်အရ ရီးဗားကုမ္ပဏီလီမိတက်သို့ ၂၀+၅+၅ နှစ်ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။

(ဂ) သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်အား ၅၀+၁၀+၁၀ နှစ် ဖြင့် သက်တမ်းတိုးမြှင့်ခြင်းနှင့် ရင်းနှီးမြှုပ်နှံမှု တိုးချဲ့ရန် ရည်ရွယ်ခြင်းတို့ကြောင့် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း) ထပ်မံချုပ်ဆိုရခြင်း ဖြစ်ပါသည်။ ၎င်းဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်အမှတ်မနသ-၀၄၇/၉၆(၇-၁၁-၁၉၉၆) ဖြင့်မြေကွက်အမှတ်(၁၁၄)၊ကနောင်မင်းသားကြီးလမ်း၊မြေတိုင်းရပ်ကွက်အမှတ်ဇုန်(၁)၊ စက်မှုဒေသ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ရော်ဘာဆိုးပြား၊ ရော်ဘာဖိနပ်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်လျက်ရှိပါသည်။

(င) တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်ရန် အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်) တွင်အပ်နှံထား ရှိ၍ထားရှိမှု မှတ်တမ်းအား အမှတ် (၃) အကြီးစား စက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)တွင် သိမ်းဆည်းထားရှိရမည်ဟု ဖော်ပြထားပါသည်။

(စ) ၁၉၉၉ခုနှစ် စက်တင်ဘာလ ၃ရက်နေ့ ရက်စွဲဖြင့် (KANGAROO) ကုန်အမှတ် တံဆိပ် အမှတ်အသားအား တစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်သွင်း ကြေငြာသည့် စာချုပ် တင်ပြထားပါသည်။

(ဆ) ရီးဗား ကုမ္ပဏီလီမိတက်သည် (၃၀-၁၁-၂၀၁၅)ရက်စွဲဖြင့် ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ် အတွက် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄,၇၃၀,၃၇၂နှင့် ဝင်ငွေခွန် ကျပ် ၁၉,၅၅၁,၉၇၉ ပေးဆောင်ပြီးဖြစ်ကြောင်း အထောက်အထားများ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ရိုးဗားကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း (ယာဉ် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)ကြီးကြပ်မှုအောက်ရှိ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ကျောက်ဆည်စက်မှုဇုန်၊ဖိနပ်စက်ရုံ(ကျောက်ဆည်)၏ မြေဧရိယာ(၂၇.၉၇)ဧက(၁၁၃၁၉၀.၆၇ စတုရန်းမီတာ)အားငှားရမ်း၍ နိုင်ငံတကာအဆင့်မီ အမျိုးသားနှင့်အမျိုးသမီးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကျောက်ဆည်စက်ရုံ-၃)ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့



စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆(၃၄၁)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၉ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၂ . ၁၁ . ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၃ / မ - ၁၂၇၇ / ၂၀၁၅ (၁၅၁၀)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယာဉ် စက်ကိရိယာနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)ကြီးကြပ်မှုအောက်ရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)ပိုင် ဧရိယာ ၂၇.၉၇ ဧက(၁၁၃၀၆၉. ၁၇ စတုရန်းမီတာ)အား ရီဗားကုမ္ပဏီလီမိတက် မှ ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ဖိနပ်စက်ရုံ - ကျောက်ဆည်)၊ စက်ရုံအမှတ် - ၃ ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးမြင့်သိန်း(ဘ) ဦးမောင်မောင်သန်း က ဆောင်ရွက်မည့်အပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လျှောက်ထားမြေနေရာနှင့်ပတ်သက်၍ စိစစ်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းအဖြစ် လက်ရှိ ဝန်ထမ်းအင်အား(၁၆၀) ဦး ရှိပြီး ဝန်ထမ်းအင်အား(၃၅၀)ဦးကို ထပ်မံ ခေါ်ယူ ဖြည့်တင်းသွားမည်ဖြစ်သဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်၊

(ဂ) အဆိုပြုမြေနေရာတွင် စက်ရုံသုံးစွဲခြင်းနှင့်ပတ်သက်၍ အုတ်တံတိုင်းဖြင့် ဝင်းခြံကာရံထားပြီး လက်ရှိစက်ရုံနေရာ အဆောက်အဦတွင် လုပ်ငန်းများ ဆောင်ရွက်နေခြင်း၊ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ခြင်းလုပ်ငန်း သက်သက် ဆောင်ရွက်မည်ဖြစ်သဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိနိုင်ခြင်းတို့ကြောင့် ဒေသခံများက လူမှုရေး၊ စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့် နေရာသည် မြေဧရိယာ အကျယ်အဝန်း(၂၇.၉၇)ဧက ရှိပြီး မန္တလေးတိုင်းဒေသကြီး [illegible]

အမိန့်အမှတ်(၂၂/၂၀၀၅)ဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ ဗိနပ်စက်ရုံအမည်ဖြင့် (လ/န-၃၉) ခွင့်ပြုမိန့် ရရှိထားပါသည်။ လက်ရှိတွင် ရီဗားကုမ္ပဏီလီမိတက်မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားလုပ်ငန်းနှင့် အကျိုးတူ ငှားရမ်းလုပ်ကိုင်နေကြောင်း စိစစ်တွေ့ရှိရပါသည်၊

( င ) တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် သီးခြားအကြံပြုရန်မရှိပါ ။

၃။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း( ယာဉ် စက်ကိရိယာနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)ကြီးကြပ်မှုအောက်ရှိ ဗိနပ်စက်ရုံ(ကျောက်ဆည်)ပိုင် မြေဧရိယာ ၂၇.၉၇ ဧက (၁၁၃၀၆၉.၁၇ စတုရန်းမီတာ)အား ရီဗားကုမ္ပဏီလီမိတက် မှ ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ( ဗိနပ်စက်ရုံ - ကျောက်ဆည်)၊ စက်ရုံအမှတ် - ၃ ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးမြင့်သိန်း(ဘ) ဦးမောင်မောင်သန်း က ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၃.၁၂.၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄၁/၂၀၁၅)၊ ဆုံးဖြတ်ချက် အပိုဒ်(၈၇)အရ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို
လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၃၃၈၀ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

NPT-5442
3.12.15

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-2113
4/12

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂ - ၁၁ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၂၇၇/ ၂၀၁၅ (၁၅၁၂)

၁။ ရီဗားကုမ္ပဏီလီမိတက်သည် ကျောက်ဆည်စက်မှုဇုန်၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း( ယာဉ်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း ) ကြီးကြပ်မှုအောက်ရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်) ပိုင် မြေဧရိယာ (၂၇.၉၇) ဧက (၁၁၃၀၆၉.၁၇ စတုရန်း မီတာ)အား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း( ဖိနပ်စက်ရုံ- ကျောက်ဆည်)စက်ရုံအမှတ်-၃ ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍စိစစ်ရာတွင် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း၌ အဓိကအသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများတွင် Rubber Sole ၊ Natural and Synthetic Leather ( သားရေတုများ)၊ Foam ၊ ကော်(Glue)စသည့် ပတ်ဝန်းကျင်ကိုထိခိုက်စေနိုင်သော ပစ္စည်းများပါဝင်ပါသည်။ အဆိုပါကုန်ကြမ်းပစ္စည်းများသည် Petroleum based synthetic material များ ဖြစ်ပါက ပတ်ဝန်းကျင် ထိခိုက်နိုင်သည့် Toxic Substance များ ထွက်ရှိနိုင်ခြင်း- ဥပမာ Leather Tanning များမှ Chromium နှင့် အခြားဘေးဖြစ်စေသည့် ပစ္စည်းများထွက်ရှိနိုင်သည့်အပြင် ဖိနပ်အလွှာတွဲစပ်ရာ၌ အသုံးပြုမည့်ကော်တွင် ပါဝင်သည့် Ethylene Vinyl Acetate အားနေ့စဉ်ရှူရှိုက်မိလျှင် မျက်စိကျိန်းစပ်ခြင်း၊ အသက်ရှူကြပ်ခြင်းနှင့် အသေးစားအဆိပ်သင့်ခြင်းများ ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံမှထွက်ရှိမည့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံဆူညံမှုဖြစ်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရီဗားကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ဝါစ်ဖက်ပါအကိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု ( CSR ) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းအကောင်အထည် မဖော်မီ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination – IEE) လုပ်ငန်းကို ဆောင်ရွက်ရန်၊ အဆိုပါ IEE အစီရင်ခံစာအပေါ် မူတည်၍ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် ( Environmental Management Plan- EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့နှင့်ဒေသခံပြည်သူတို့၏ ဆန္ဒနှင့် သဘောထား ရယူဆောင်ရွက်ရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၂၇၁၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၂၇၇ / ၂၀၁၅ (၁၅၁၁)

၁။ ရီဗားကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်စက်မှုဇုန်ရှိ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ ဖိနပ်စက်ရုံ (ကျောက်ဆည်)တွင် နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက် ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

၃။ သို့ပါ၍ ရီဗားကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးနှင့် ကလေးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၈.၁၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

" ရီးဗားကုမ္ပဏီလီမိတက် "

Reva Company Limited

မှ

စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းလက်အောက်ရှိ

ဖိနပ်စက်ရုံ (ကျောက်ဆည်) စက်ရုံအမှတ် (၃)

မြေ ( ၂၇. ၉၇ )ဧက အားငှားရမ်း၍

ဖိနပ်များထုတ်လုပ်၊ ရောင်းချသော လုပ်ငန်းအား ဆောင်ရွက်မည့်

" အဆိုပြုလွှာ တင်ပြချက် "

နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးစီး ဖိနပ်များအား

တင်ပို့ ရောင်းချခြင်းလုပ်ငန်း



# REVA COMPANY LIMITED

No.3/4,Bld 7, Naykyar/Tharyargone Street, Pazundaung Township, Yangon, Myanmar.
Tel : 95-1-200386, 200387, Fax : 95-1-200387
E-Mail:revacompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ ( ၄ )ရက်။

အကြောင်းအရာ ။ ။ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ( IEE )၊ ( EMP ) ဆောင်ရွက်မှုအခြေအနေအားတင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် စာအမှတ် ၇က-၃/မ - ၁၂၇၇/၂၀၁၅ (၁၇၁၇)

အထက်ဖော်ပြပါအကြောင်းအရာနှင့်စပ်လျဉ်း၍ Reva Co.,Ltd.သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းလက်အောက်ရှိ ဖိနပ်စက်ရုံ (ကျောက်ဆည်)၊ စက်ရုံအမှတ် (၃)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် မြေဧရိယာ(၂၇. ၉၇)ဧကအား ငှားရမ်း၍ ဖိနပ်များထုတ်လုပ်လျှက်ရှိပါသည်။

ယခုအခါရင်းနှီးမြှုပ်နှံမှုအသစ်ဖြင့် နိုင်ငံတကာအဆင့်မီ အမျိုးသားနှင့်အမျိုးသမီးစီးဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဖိနပ်စက်ရုံ (ကျောက်ဆည်)၊ စက်ရုံအမှတ် (၃)တွင် အဆောက်အဦးထပ်မံ ဆောက်လုပ်၍ လုပ်ကိုင်မည်ဖြစ်ပါသည်။ ထုတ်လုပ်မှုလုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိသည့် နည်းစနစ်များဖြင့် အသုံးပြုရန် အသားတင်အမြတ်ငွေမှ CSR ( Corporate Social Responsibility CSR (2%) ) အား အသုံးပြုပြီးအကောင်အထည်ဖော်လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

ကနဦးပတ်ဝန်းကျင်ဆန်းစစ်သည့် IEE အစီရင်ခံစာအား EMP ရေးဆွဲတင်ပြရန် Green Myanmar Environmental Services Co.,Ltd.သို့အပ်နှံထားပြီးဖြစ်ပါသည်။ IEE, EMP အစီရင်ခံစာအား ၁၅. ၀၃. ၁၆တွင် အပြီးရေးဆွဲပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပေးမည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ Reva Co.,Ltd. သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန စည်ပင်သာယာရေးဌာနမှ ပြဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

လေးစားစွာဖြင့်
(signature)
ဦးမြင့်သိန်း
မန်နေးဂျင်းဒါရိုက်တာ
ရီးဗားကုမ္ပဏီလီမိတက်




# REVA COMPANY LIMITED

No.3/4,Bld 7, Naykyar/Tharyargone Street, Pazundaung Township, Yangon, Myanmar.
Tel : 95-1-200386, 200387, Fax : 95-1-200387
E-Mail:revacompany@gmail.com


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ ( ၄ )ရက်။

အကြောင်းအရာ။ ။ ကုန်ကြမ်းပစ္စည်းများထားရှိမည့် အခြေအနေအား တင်ပြခြင်းကိစ္စ။

အထက်အကြောင်းအရာနှင့်စပ်လျဉ်း၍ Reva Co.,Ltd.သည်စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းလက်အောက်ရှိ ဖိနပ်စက်ရုံ (ကျောက်ဆည်)၊ စက်ရုံအမှတ် (၃)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် မြေဧရိယာ(၂၇. ၉၇)ဧကအား ငှားရမ်း၍ ဖိနပ်များထုတ်လုပ်လျက်ရှိပါသည်။

ယခုရင်းနှီးမြှုပ်နှံမှုအသစ်ဖြင့် နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးစီး ဖိနပ်ထုတ်လုပ်ရာတွင် မိမိတို့အသုံးပြုမည့်ဖိနပ်များ၏ ကုန်ကြမ်းတွင်ပါဝင်သော ဓါတုဗေဒများသည် ပေါက်ကွဲစေတတ်သော ပစ္စည်းများပါဝင်မှုမရှိခြင်းတို့ကြောင့် ဆောက်လုပ်မည့် အဆောက်အဦ အထပ်တိုင်းတွင် ဓါတုဗေဒပစ္စည်းများထားရှိရန်အတွက် သီးသန့်အခန်းများဖြင့် ထားရှိမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြင့်သိန်း
မန်နေးဂျင်းဒါရိုက်တာ
ရီးဗားကုမ္ပဏီလီမိတက်




# REVA COMPANY LIMITED

No.3/4,Bld 7, Naykyar/Tharyargone Street, Pazundaung Township, Yangon, Myanmar.
Tel : 95-1-200386, 200387, Fax : 95-1-200387
E-Mail:revacompany@gmail.com


နေ့စွဲ ။ ။၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ ( ၁၆ )ရက်။

အကြောင်းအရာ။ ။ <u>သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် လျာထားချက်တင်ပြခြင်း။</u>

Reva Co.,Ltd. သည် ဖိနပ်စက်ရုံ (ကျောက်ဆည်)၊ စက်ရုံအမှတ်(၃)တွင် နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးစီးဖိနပ်များအား ထုတ်လုပ်တင်ပို့ရောင်းချပြီး သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်ရန် ပထမ (၅)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ပြီး အသားတင်အမြတ်ပေါ်တွင် CSR 2% ဖြင့် အောက်ပါအတိုင်းတွက်ချက်လျာထားပါသည်။

| | |
|---|---|
| Year 1 | - 2,430,000/- |
| Year 2 | - 5,031,000/- |
| Year 3 | - 7,140,000/- |
| Year 4 | - 9,332,000/- |
| Year 5 | - 11,380,000/- |

ဒုတိယ (၅)နှစ်အတွက် ဝင်ငွေခွန်ဆောင်ပြီး အသားတင်အမြတ်ပေါ်တွင် CSR 2% ဖြင့်

| | |
|---|---|
| Year 6 | - 9,349,000/- |
| Year 7 | - 10,852,000/- |
| Year 8 | - 11,934,000/- |
| Year 9 | - 12,850,000/- |
| Year 10 | - 13,455,000/- |

စုစုပေါင်း (၁၀)နှစ်အတွက် **93,753,000/-** လျာထားတွက်ချက်ထား ပါသည်။

လေးစားစွာဖြင့်

(signature)

ဦးမြင့်သိန်း
မန်နေးဂျင်းဒါရိုက်တာ
ရီးဗားကုမ္ပဏီလီမိတက်



# REVA COMPANY LIMITED

No.3/4,Bld 7, Naykyar/Tharyargone Street, Pazundaung Township, Yangon, Myanmar.
Tel : 95-1-200386, 200387, Fax : 95-1-200387
E-Mail:revacompany@gmail.com

နေ့စွဲ ။ ။၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ ( ၁၆ )ရက်။

အကြောင်းအရာ။ ။ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် လျာထားချက်တင်ပြခြင်း။

Reva Co.,Ltd. သည် ဖိနပ်စက်ရုံ (ကျောက်ဆည်)၊ စက်ရုံအမှတ်(၃)တွင် နိုင်ငံတကာအဆင့်မီ အမျိုးသား၊ အမျိုးသမီးစီးဖိနပ်များအား ထုတ်လုပ်တင်ပို့ရောင်းချပြီး သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်ရန် ပထမ (၅)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ပြီး အသားတင်အမြတ်ပေါ်တွင် CSR 2% ဖြင့် အောက်ပါအတိုင်းတွက်ချက်လျာထားပါသည်။

| | |
|---|---|
| Year 1 | - 7,430,000/- |
| Year 2 | - 8,461,000/- |
| Year 3 | - 9,803,000/- |
| Year 4 | - 10,335,000/- |
| Year 5 | - 15,310,000/- |

ဒုတိယ (၅)နှစ်အတွက် ဝင်ငွေခွန်ဆောင်ပြီး အသားတင်အမြတ်ပေါ်တွင် CSR 2% ဖြင့်

| | |
|---|---|
| Year 6 | - 11,480,000/- |
| Year 7 | - 13,173,000/- |
| Year 8 | - 17,241,000/- |
| Year 9 | - 21,091,000/- |
| Year 10 | - 25,243,000/- |

စုစုပေါင်း (၁၀)နှစ်အတွက် **139,567,000/-** လျာထားတွက်ချက်ထား ပါသည်။

လေးစားစွာဖြင့်

ဦးမြင့်သိန်း
မန်နေးဂျင်းဒါရိုက်တာ
ရီးဗားကုမ္ပဏီလီမိတက်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃- စမ(၂) ၂၀၁၅-၂၀၁၆ ( ၂၁၇၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ ဖိနပ်စက်ရုံ(ကျောက်ဆည်)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်း

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)ကြီးကြပ်မှုရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)ကို ၂၄.၄.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၈/၂၀၁၄)၏ ခွင့်ပြုချက်အရ REVA Co., Ltd. သို့ (၂၀+ ၅+ ၅)နှစ်ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။

၂။ REVA Co., Ltd. မှ ဖိနပ်စက်ရုံ(ကျောက်ဆည်)တွင် ငွေကျပ်(၅,၄၆၇.၁၁၂)သန်းခန့် ရင်းနှီးမြှုပ်နှံ၍ EVA ဆိုးလ်ပြား၊ EVA ခြေညှပ်ဖိနပ်များ၊ ရာဘာခြေညှပ်ဖိနပ်များနှင့် ရာဘာသဲကြိုးများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချလျက်ရှိပါသည်။ ယခုအခါ ငွေကျပ်(၃,၄၃၀.၀၀၀)သန်းခန့် ထပ်မံရင်းနှီးမြှုပ်နှံ၍ PU Injection ၊ PVC Injection ၊ TPR Injection ၊ EVA Injection စသည့် အဆင့်မြင့်ဖိနပ်အမျိုးမျိုးတိုးချဲ့ထုတ်လုပ်သွားမည်ဖြစ်ပါသဖြင့် ငှားရမ်းကာလအား (၂၀+ ၅+ ၅)နှစ် **အစား** (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီမှ တင်ပြလာပါသည်။

၃။ သို့ပါ၍ REVA Co., Ltd. မှ မူလရင်းနှီးမြှုပ်နှံမှုတန်ဖိုးအပြင် ငွေကျပ်(၃,၄၃၀.၀၀၀) သန်းခန့် ထပ်မံရင်းနှီးမြှုပ်နှံ၍ အဆင့်မြင့်ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား တိုးချဲ့ဆောင်ရွက်နိုင်ရေးအတွက် ဖိနပ်စက်ရုံ(ကျောက်ဆည်)အား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏အဆိုပြုလွှာ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ ပြင်ဆင်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)နှင့်တကွ အချက်အလက်အထောက်အထားတို့ကို ပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၂၈.၉.၁၅

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ငှားရမ်းထားသော ဖိနပ်စက်ရုံ(ကျောက်ဆည်)၏ စက်ရုံဆိုင်ရာအချက်အလက်များ

| | |
|---|---|
| ၁။ စက်ရုံတည်နေရာ | -စက်မှုနယ်မြေ၊ ကျောက်ဆည်မြို့နယ် မန္တလေးတိုင်းဒေသကြီး |
| ၂။ ဧရိယာအကျယ်အဝန်း | -၂၇.၉၇ ဧက |
| ၃။ အဆောက်အဦအရေအတွက် | -ရုံး+ကုန်ထုတ်(၁၇)လုံး<br>သိုလှောင်ရုံ(၂)လုံး<br>ရေစက်၊ ရေကန်(၂)လုံး<br>အိမ်ရာ(၂၇)လုံး |
| ၄။ ငှားရမ်းစက်နှင့် စက်ပစ္စည်း | -(၃၇)မျိုး |
| ၅။ ငှားရမ်းကုမ္ပဏီ | -REVA Co.,Ltd |
| ၆။ ရင်းနှီးမြှုပ်နှံမှု | -ကျပ်(၃၂၁၂.၀၀)သန်း |
| ၇။ ဆောင်ရွက်သည့်လုပ်ငန်း | -ဖိနပ်အမျိုးမျိုး၊ EVA ဆိုးလ် အမျိုးမျိုးထုတ်လုပ်ခြင်း |
| ၈။ ဝန်ထမ်းဦးရေ/လစာ(တစ်လ) | - - |
| ၉။ လက်ရှိငှားရမ်းသည့်ကာလ | -(၁.၉.၂၀၁၂)မှ (၃၁.၈.၂၀၃၂)ထိ (၂၀+၅+၅)နှစ် |
| ၁၀။ EC ခွင့်ပြုချက်(မူလ ၅ နှစ်) | -၆/၂၀၁၂-၂၀၁၃(၈.၆.၂၀၁၂) |
| ၁၁။ (၅)နှစ်မှ(၁၀)နှစ်သို့ EC ခွင့်ပြုချက် | -၂၂/၂၀၁၃-၂၀၁၄(၂၀.၂.၂၀၁၄) |
| ၁၂။ အစိုးရအဖွဲ့ခွင့်ပြုချက် | -၈/၂၀၁၄(၂၄.၄.၂၀၁၄) |
| ၁၃။ နိုင်ငံတော်သမ္မတရုံးခွင့်ပြုချက် | -နိုင်ငံတော်သမ္မတရုံး၏ (၆.၇.၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၅၄(၂)/၇/သမ္မတရုံး |
| ၁၄။ MIC ခွင့်ပြုချက် | -ဆောင်ရွက်ဆဲ |
| ၁၅။ တစ်နှစ်ငှားရမ်းခ | -ကျပ်(၆၀.၀၀၀)သန်း |
| ၁၆။ ငှားရမ်းခပေးသွင်းစနစ် | -(၃)လအတွက် ငှားရမ်းခကျသင့်ငွေကို (၃)လလျှင် တစ်ကြိမ် ပထမလ၏(၁၅)ရက်အတွင်း ပေးသွင်းရန် |



အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
ဝင်စာအမှတ် ၆၉၈ ၁၀၄
ရက်စွဲ ၁၁.၉.၁၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

ကြီးစားစက်မှုလုပ်ငန်း
ဝင်စာအမှတ် ၄၃၇၁
ရက်၊ အချိန် ၁၅.၉.၁၅

စာအမှတ်၊ ၂၃- စမ(၂) ၂၀၁၅-၂၀၁၆ ( ၁၉၆၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၅.၉.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၃-၁၄၂/နပတ(၈၈၂)

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)ကို Reva Co., Ltd. သို့ မူလငှားရမ်းကာလ အစား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ရာတွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးမည့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး သုံးသပ်အကြံပြုချက်များကို ရည်ညွှန်းချက်ပါစာဖြင့် ပြန်ကြားလာပါသည်။ ၎င်းစာမိတ္တူနှင့် မှင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ထားသည့် စာချုပ်(မူကြမ်း) မူရင်းအား ပူးတွဲပေးပို့အပ်ပါသည်။

၂။ သို့ပါ၍ ဖိနပ်စက်ရုံ(ကျောက်ဆည်)ကို Reva Co., Ltd. သို့ (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ရာတွင် ပြင်ဆင်ချုပ်ဆိုမည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူ စာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုသဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်ပြုစုပြီး ဝန်ကြီးရုံးသို့ ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊၂(၅) ၃ - ၁၄၂ / နပတ( ၈၅၂ )

ရက်စွဲ၊၂၀၁၅ခုနှစ်၊စက်တင်ဘာလ ၅ ရက်

အကြောင်းအရာ။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် REVA Co., Ltd တို့ ချုပ်ဆိုမည့် (ဒုတိယအကြိမ်) ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၏ ၂၄-၈-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁၅၀၆(အရည်အသွေး) ၂၀၁၅/ ၂၅၅

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ ဖိနပ်စက်ရုံ (ကျောက်ဆည်)အား ငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် REVA Co., Ltd တို့အကြား ချုပ်ဆိုမည့် (ဒုတိယအကြိမ်) ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ၁၂-၆-၂၀၁၂ ရက်နေ့က ချုပ်ဆိုခဲ့သော ငှားရမ်းသည့် သဘောတူစာချုပ်(မိတ္တူ)၊ ၁၆-၇-၂၀၁၄ ရက်နေ့က ချုပ်ဆိုခဲ့သော (ပထမအကြိမ်) ပြင်ဆင်ချက် သဘောတူစာချုပ်(မိတ္တူ)နှင့် (ဒုတိယအကြိမ်) ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)တို့အား ပူးတွဲပေးပို့လာပါသည်။

၃။ ၁၂-၆-၂၀၁၂ ရက်စွဲပါမူလစာချုပ်(မိတ္တူ)နှင့် ၁၆-၇-၂၀၁၄ ရက်စွဲပါ (ပထမအကြိမ်) ပြင်ဆင်ချက်သဘောတူစာချုပ်(မိတ္တူ)၌ စာချုပ်ဝင်၏အမည်အား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းဟု ဖော်ပြထားပါသည်။ သို့သော် (ဒုတိယအကြိမ်) ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)တွင် စက်မှုဝန်ကြီးဌာန၏ ၂၆-၃-၂၀၁၅ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် (၁၃၄/ ၂၀၁၄-၂၀၁၅)အရ အထည်

အလိုပ်လုပ်ငန်းအား အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းအဖြစ် ပြင်ဆင်ဖွဲ့စည်းခဲ့ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၄။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပေးပို့လာသော ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)သည် မူလစာချုပ်၏ သက်တမ်းအား ၁-၉-၂၀၁၂ ရက်နေ့မှ ၃၁-၈-၂၀၆၂ ထိ (၅၀)နှစ်နှင့် သက်တမ်းတိုးမြှင့်ငှားရမ်းလိုပါက တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် (၂)ကြိမ်သက်တမ်းတိုးငှားရမ်းလို၍ ချုပ်ဆိုခြင်းဖြစ်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။

၅။ ပေးပို့လာသော ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၂ တွင် နောက်ဆက်တွဲ(ခ)၊ နောက်ဆက်တွဲ(င)ဟုလည်းကောင်း၊ အပိုဒ် ၁၁ တွင် နောက်ဆက်တွဲများဟုလည်းကောင်း ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)၌ အဆိုပါနောက်ဆက်တွဲများ ပူးတွဲပါရှိလာခြင်းမရှိ၍ စိစစ်နိုင်ခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်သဖြင့် စာချုပ်ချုပ်ဆိုလက်မှတ်ရေးထိုးမည့် အချိန်တွင် ပူးတွဲပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ခ) ပြင်ဆင်ချက်စာချုပ်(မူကြမ်း) အပိုဒ် ၇ တွင် "မူလစာချုပ်တွင်မပါဝင်သော ကုန်သွယ်လုပ်ငန်းခွန်ပေးဆောင်ခြင်း ခေါင်းစဉ်အား အပိုဒ် (၃၃) အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်" ဟုဖော်ပြထားပြီး အပိုဒ်အမှတ်စဉ်အား '၁၇' ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အပိုဒ်အမှတ်စဉ်များ မှန်ကန်မှုရှိစေရေးဌာနက တာဝန်ယူစိစစ်ရန်လိုအပ်ပါသည်၊

(ဂ) ပြင်ဆင်ချက်စာချုပ်(မူကြမ်း)၌ ကွက်လပ်များအား စာချုပ်ချုပ်ဆိုလက်မှတ်ရေးထိုးမည့်အချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဃ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၈၊၉၊၂၀၁၇

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

မိတ္တူကို - ရုံးလက်ခံ / မျှောစာတွဲ



Acer/DCMKKZ/REVA Co., Ltd (31-8-2015)



စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

No.(3) Heavy Industries Enterprise, Ministry of Industry

စာအမှတ်၊ ၁၅၀၆(အရည်အသွေး) ၂၀၁၅/၂၁၅

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ဩဂုတ်လ ၂၄ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်

ပြည်ထောင်စုရှေ့နေချုပ်ရုံး

အကြောင်းအရာ။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)အား သက်တမ်းတိုးမြှင့်ငှားရမ်းရန် ဒုတိယအကြိမ် ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်) အား (၂၀+၅+၅) နှစ်ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိသော Reva Co.Ltd သို့ မူလငှားရမ်းသက်တမ်းအပါ အဝင် (၅၀+၁၀+၁၀)နှစ်သို့ သက်တမ်းတိုးမြှင့် ငှားရမ်းရန်အတွက် ပြင်ဆင်ချက်သဘောတူစာချုပ် ပုံစံဖြင့် ပြုစုထားပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပါစာချုပ် "မူကြမ်း" အပေါ် သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ ပြန်ကြားပေးပါရန် ဖော်ပြပါစက်ရုံ၏ ဒုတိယအကြိမ် သက်တမ်းတိုးမြှင့် ပြင်ဆင်ချက်သဘောတူ စာချုပ်(မူကြမ်း) (၃)အုပ်နှင့် မူလစာချုပ်(မိတ္တူ) (၂) အုပ်တို့ကို ပူးတွဲပေးပို့အပ်ပါသည်။

24/8/15

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)

သန်းထွန်း၊ အထွေထွေမန်နေဂျာ

D:\letterhead\LetterHead(2015).docx

000126



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ် ။ ။ ၀၁၈/ ရဗ/ ၂၀၁၅

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ ( ၂ )ရက်

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် = ဦးမြင့်သိန်း

(ခ) အဖအမည် = ဦးမောင်မောင်သန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် = ၁၂/လသန(နိုင်)၀၀၄၁၅၂

(ဃ) နေရပ်လိပ်စာ = အခန်းအမှတ် (၂၀၃)၊ လိပ်ကန်တာဝါ၊ ဦးရွှေဂွန်းလမ်း၊ ပုဇွန်တောင်မြို့နယ်။

(င) လူမျိုး၊ဘာသာ = ဗမာ-တရုတ်၊ ဗုဒ္ဓဘာသာ။

(စ) အဖွဲ့အစည်းအမည် = ရီးဗားတုမွှဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား = ဖိနပ်အမျိုးမျိုးထုတ်လုပ်ရောင်းဝယ်ရေး

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် = တိုက် (၇)၊ အခန်း (၃/၄)၊ နေကြာလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

| စဉ် | စက်ပစ္စည်းအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 29 | PFUFF Single Sewing Machine | Nos | 13 | |
| 30 | Two Niddle Sewing Machine | Nos | 8 | |
| 31 | Grinding Machine | Set | 1 | |
| 32 | Economic 3 Ton Boiler | Set | 1 | |
| 33 | 300 KVA Generator | Set | 1 | |
| 34 | 11 KW with Pump | Set | 1 | |
| 35 | Air Compressor | Set | 1 | |
| 36 | 1000 KVA Transformer | Set | 1 | |
| 37 | Vucan Circuit Breaker | Set | 1 | |
| 38 | Air Circuit Breaker | Sets | 1 | |
| 39 | Water Chiller | Set | 1 | |
| 40 | 4 Roller Buffing Machine | Set | 1 | |
| 41 | 5 Ton Chain Block | Set | 1 | |
| 42 | 5 HA Compressor | No | 1 | |
| 43 | Steam Flexible Pipe | Nos | 10 | |
| 44 | Fly Wheel Shaft | Nos | 2 | |
| 45 | No-6 Pannel Box | Nos | 5 | |
| 46 | Steam Auto Drain Valve | Nos | 2 | |
| 47 | 4" Flexible Pipe | Fts | 50 | |
| 48 | Last (001) (35 to 37) | Prs | 3 | |
| 49 | Last (002) (34 to 38) | Prs | 5 | |
| 50 | Last (002)ပုံတုံး (38 to )42 | Prs | 5 | |
| 51 | BM-20 Logo | Prs | 19 | |
| 52 | Elephant Logo | Prs | 3 | |
| 53 | Fly Eagle Logo | Prs | 12 | |
| 54 | ခရုပွေကြေးပြား (5 to 10 ½) | Prs | 24 | |
| 55 | 7-8 ½ အောက်ခံပန်းပြား(မိုလ်) | Prs | 4 | |
| 56 | 7-8 ½ အောက်ခံပန်းပြား(Slop) | Prs | 4 | |
| 57 | 7-8 ½ အောက်ခံပန်းပြား(Slop) | Prs | 4 | |
| 58 | 9-10 ½ အောက်ခံပန်းပြား(မိုလ်) | Prs | 4 | |

| စဥ် | စက်ပစ္စည်းအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 59 | 9-10 ½ အောက်ခံပန်းပြား(Slop) | Prs | 13 | |
| 60 | 20 mm Half Wedge Roller | Set | 1 | |
| 61 | 15 mm Half Wedge Roller | Set | 1 | |
| 62 | 10 mm Half Wedge Roller | Set | 1 | |
| 63 | တည့်ရိုလာ | Set | 1 | |
| 64 | Fancy Roller | Set | 1 | |
| 65 | Supper II Upper (35-38) | Prs | 2 | |
| 66 | Supper II Foot Pad (35-38) | Prs | 4 | |
| 67 | Supper II In Sole(35-38) | Prs | 4 | |
| 68 | Supper II Out Sole (35-38) | Prs | 4 | |
| 69 | Supper Half Wedge (35-38) | Prs | 1 | |
| 70 | Supper II In Sole (36-38) | Prs | 3 | |
| 71 | Supper II Out Sole (36-38) | Prs | 3 | |
| 72 | Supper II Foot Sole (36-38) | Prs | 3 | |
| 73 | R/S Knife | Prs | 12 | |
| 74 | Fancy Upper Knife (35-38) | Prs | 2 | |
| 75 | Fancy In Sole (35) | Prs | 1 | |
| 76 | Marathon In Sole knife (36-42) | Prs | 7 | |
| 77 | Marathon Out Sole knife (36-42) | Prs | 7 | |
| 78 | Fancy Half Wedge knife (35-38) | Prs | 1 | |
| 79 | Marathon Upper Knife (36-42) | Prs | 2 | |
| 80 | Super II Upper Knife | Prs | 2 | |
| 81 | Super Upper Knife | Prs | 1 | |
| 82 | Supper II Half Wedge Knife | Prs | 1 | |
| 83 | Strap Mould | Nos | 20 | |
| 84 | 6-day Light Mould | Nos | 49 | |
| 85 | Capacitor Bank (150 KVAR) | Set | 1 | |

နောက်ဆက်တွဲ(င)

## ဖိနပ်စက်ရုံ(ကျောက်ဆည်)
## မော်တော်ယာဉ်များစာရင်း

| စဉ် | ယာဉ်အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| ၁ | Limited Salaon | စီး | ၁ | (တစ်)စီး |
| ၂ | TE-21 | စီး | ၁ | (တစ်)စီး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

**REVA Co.,Ltd**

တို့
ချုပ်ဆိုသော

ဖိနပ်စက်ရုံ(ကျောက်ဆည်)အား
ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်
သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်
သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၆) ရက်

ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ

စက်မှုဝန်ကြီးဌာန

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

REVA Co.,Ltd တို့ ချုပ်ဆိုထားသော

ဖိနပ်စက်ရုံ(ကျောက်ဆည်)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

ပြင်ဆင်ချက်သဘောတူစာချုပ်

ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင် လ (၁၀)ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးမြင့်သိန်း အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/လသန(နိုင်)၀၀၄၁၅၂ ကိုယ်စားပြုသော REVA Co.,Ltd သာယာကုန်း/နေကြာလမ်း၊ တိုက်(၇)၊ အခန်း(၃/၄)၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး(နောင်တွင် အငှားချထားခြင်းခံရသူ ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူ များ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦး သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၏ အရှေ့ဘက် (၄.၄)မိုင်အကွာ၊ ကျောက်ဆည်စက်မှုနယ်မြေရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)၏မြေ(၂၅.၉၄)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများကို (၅)နှစ်သက်တမ်းငှားရမ်း၍ ဖိနပ်အမျိုးမျိုး၊ EVA ဆိုးလ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၂ ခုနှစ် ဇွန်လ (၁၂)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် မူလစာချုပ် ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်း ဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၉.၂၀၁၂) မှ (၃၁.၈.၂၀၃၂)ထိ (၂၀)နှစ်နှင့် သက်တမ်းတိုးမြှင့်လိုပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့်လိုကြောင်း ဤနှစ်ရှည်ငှားရမ်းမည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။

(ဂ) အဆိုပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှသဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန (၂၀.၂.၂၀၁၄)ရက်နေ့တွင် ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေး ဆိုင်ရာကော်မတီအစည်းအဝေးအမှတ်စဥ်(၂၂/၂၀၁၃-၂၀၁၄)ဖြင့် ခွင့်ပြုပြီးဖြစ်ပါသည်။

ကန့်သတ်






(ဃ) သက်တမ်းတိုးဆောင်ရွက်ခြင်းကို (၂၀.၂.၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်း အဝေး အမှတ်စဉ်(၂၂/၂၀၁၃-၂၀၁၄)သို့ တင်ပြခွင့်ပြုချက်အရ ဆောင်ရွက်ခြင်း ဖြစ်ပါသည်။

(င) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍ အစိုးရအဖွဲ့မှ ခွင့်ပြုသော မူလငှားရမ်းသက်တမ်း (၅)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ်ဖြင့် ငှားရမ်းခွင့်ကို (၆-၂-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၄)မှ သဘောတူခွင့်ပြုပြီး ဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကိုပြင်ဆင်သည့် ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုကြပါသည် -

၁။ မူလစာချုပ်တွင် ရည်ရွယ်ချက်ခေါင်းစဉ်အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၏ အရှေ့ဘက် (၄.၄)မိုင်အကွာ၊ ကျောက်ဆည်စက်မှုနယ်မြေရှိ ဖိနပ်စက်ရုံ(ကျောက်ဆည်)၏ မြေ (၂၅.၉၄)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများကို "အငှားချထားခြင်းခံရသူ" မှ ဖိနပ်အမျိုးမျိုး၊ EVA ဆိုးလ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ ဤစက်ရုံ ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

၂။ မူလစာချုပ်၏ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁)အား အပိုဒ်(၂)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၃။ မူလစာချုပ်၏ အငှားချထားမည့်ပစ္စည်းများ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂)အား အပိုဒ်(၃)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၄။ မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၃)အား ပယ်ဖျက်၍ အပိုဒ်(၄)၊ အပိုဒ်(၅)တို့အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ဖိနပ်စက်ရုံ(ကျောက်ဆည်)အား (၁.၉.၂၀၁၂)ရက်နေ့မှစ၍ (၂၀)နှစ်+(၅)နှစ်+(၅)နှစ် ဖြစ်ပါသည်။

၅။ ငှားရမ်းသက်တမ်းထပ်မံတိုးလိုပါက သက်တမ်း(၁)ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်း(၂) ကြိမ် တိုးနိုင်သည်။ သက်တမ်းတိုးဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည် ဖြစ်ပါသည်။

<u>ကန့်သတ်</u>

D:\Tender\Foot Wear.docx







၅။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဥ်အောက်ရှိ အပိုဒ်(၄)အားပယ်ဖျက်၍ အပိုဒ်(၆)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

10 JUL 2014

**စာချုပ်သက်တမ်း**

၆။ ၄င်းရမ်းမည့်စာချုပ်သက်တမ်းမှာ (၁.၉.၂၀၁၂)မှ(၃၁.၈.၂၀၃၂)ထိ(၂၀)နှစ်ဖြစ်ပါသည်။ စာချုပ်သက်တမ်းတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်း(၂)ကြိမ် တိုးနိုင်သည်။

၆။ မူလစာချုပ်၏ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ခေါင်းစဥ်အား ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ဟု ပြောင်းလဲပြင်ဆင်ရမည်။ မူလခေါင်းစဥ်အောက်ရှိ အပိုဒ်(၅)အား ပယ်ဖျက်၍ အပိုဒ်(၇)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်း**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါ အတိုင်းဖြစ်ပါသည် -

| စဥ် | လစာနှုန်း | လူဦးရေ | |
|---|---|---|---|
| (က) | ၂၂၀၀၀၀-၂၀၀၀-၂၃၀၀၀၀ | ၁ | ဦး |
| (ခ) | ၂၀၀၀၀၀-၂၀၀၀-၂၁၀၀၀၀ | - | ဦး |
| (ဂ) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၁ | ဦး |
| (ဃ) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၁ | ဦး |
| (င) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၂ | ဦး |
| (စ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၁ | ဦး |
| (ဆ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | ၅ | ဦး |
| (ဇ) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၃၈ | ဦး |
| (ဈ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၁ | ဦး |
| (ည) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၉ | ဦး |
| (ဋ) | ၇၅၀၀၀-၁၀၀၀-၈၀၀၀၀ | ၅ | ဦး |
| (ဌ) | နေ့စား | ၂ | ဦး |
| | **စုစုပေါင်း** | ၆၆ | ဦး |

၇။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၆)အား ပယ်ဖျက်၍ အပိုဒ်(၈)အဖြစ် တဖက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

<u>ကန့်သတ်</u>




ဝန်ထမ်းရေးရာကိစ္စရပ်များ

10 JUL 2014

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့် ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၈။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)၊ အပိုဒ်ခွဲ (က)နှင့် (ည) အားပယ်ဖျက်၍ အပိုဒ်(၈) အပိုဒ်ခွဲ(က) နှင့် (ည)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၈(က)။ စက်ရုံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့် လ၏ နောက်ဆုံးရက် (သို့မဟုတ်)ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

၈(ည)။ စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့် ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အကယ်၍ ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားသူ"၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

၉။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)အား အပိုဒ်(၉)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၁၀။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)အား ပယ်ဖျက်၍ အပိုဒ်(၁၀) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၁၀။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၁)နှစ်လျှင် တစ်ကြိမ် ပြန်လည်သုံးသပ်၍ (၃%) မှ (၅%)အတွင်း မပို/မလျော့နည်းစေရန် နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အပိုဒ်(၁၀)တို့အား ပယ်ဖျက်၍ ငှားရမ်းခပေးသွင်းခြင်းခေါင်းစဉ် အပိုဒ်(၁၁)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းခပေးသွင်းခြင်း**

၁၁။ ယခုစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။

၁၂။ မူလစာချုပ်တွင် နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၂)အဖြစ် တဖက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

ကန့်သတ်






10 JUL 2014

နောက်ကျကြေးပေးသွင်းခြင်း

၁၂။ အငှားချထားခြင်းခံရသူသည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့် (၃)လအတွက် ငှားရမ်းခအား ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း (၃)လအတွက် ပေးသွင်းရမည့် ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် တွက်ချက်ပေးဆောင်ရမည်။

၁၃။ မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၁)နှင့်အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၃)နှင့်အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများ၊ အခြားပရိဘောဂများ၊ မော်တော်ယာဥ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

(ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ ရုံးသုံးပစ္စည်းများနှင့် အခြား ပရိဘောဂများရှိပါက အငှားချထားသူသို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်သည်။

(ဂ) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းနှင့်မကိုက်ညီသော မူလ အဆောက်အဦကို ပြုပြင်ရန် (သို့) ဖြိုဖျက်ရန်အလို့ငှာ "အငှားချထားသူ" နှင့်

(ဃ) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းတိုးချဲ့ခြင်း၊ ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို "အငှားချထားသူ" နှင့် ညှိနှိုင်း၍ ဆောင်ရွက်နိုင်သည်။

(င) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း၊ အဆောက်အဦများနှင့် ပတ်သက်၍ ပြုပြင်ထိန်းသိမ်းမှုများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် အငှားချထားသူအား စနစ်တကျ ထိန်းသိမ်း ဆောင်ရွက်ခွင့် ပြုရမည်ဖြစ်ပြီး လိုအပ်သည်များ ကူညီဆောင်ရွက်ပေးရမည်။

10 JUL 2014



(ဇ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဂိရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဥ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရ။

(ည) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့်ကာလအတွင်း အငှားချထားသူ မှလည်းကောင်း၊ အငှားချထားသူက နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါက ဝင်ရောက်လေ့လာခြင်း စစ်ဆေး ခြင်းများ ဆောင်ရွက်ခြင်းရှိပါက ခွင့်ပြုရမည်။

(ဋ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့် စပ်လျဥ်း၍ အလုံးစုံသောအာမခံကို မြန်မာ့အာမခံ လုပ်ငန်း ဥပဒေပါပြဋ္ဌာန်းချက်နှင့် အညီမပျက်မကွက် ထားရှိဆောင်ရွက် ရမည်။

(ဍ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့်စက်ရုံကို မူလ ငှားရမ်းစဥ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသော ပျက်စီးမှုများအတွက် ပြောင်းလဲမှုများကို ခွင့်ပြု လက်ခံနိုင်သည်။

(ဎ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်းစာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေး ငွေပေးရန်မလိုဘဲ "အငှားချထားသူ"ပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာရ မည်။ အကယ်၍ မိမိတပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများ အား တပ်ဆင်ခြင်းမပြုမီ ကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက် ရယူထား ရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဏ) စက်ရုံမှ ထုတ်ကုန်များအား ပြင်ပ ဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်း ဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(တ) "အငှားချထားခြင်းခံရသူ" သည် တရားဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ထ) "အငှားချထားခြင်းခံရသူ" သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြားလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါက "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဒ) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "အငှားချထားသူ" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ဓ) အငှားချထားသည့် ပစ္စည်းရပ်များတွင် "အငှားချထားသူ"၏ (နေ့စား၊ လခစား) ဝန်ထမ်းများအနက် ၎င်းတို့၏ဆန္ဒအလျောက် "အငှားချထားခြင်းခံရသူ"(ကုမ္ပဏီ)သို့ လိုက်ပါမည့် ဝန်ထမ်းများကို "အငှားချထားခြင်းခံရသူ"(ကုမ္ပဏီ)သည် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်)ဖြင့် လွှဲပြောင်းလက်ခံဆောင်ရွက်ရမည်။

(န) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်ပရင်းနှီးမြှုပ်နှံမှုများနှင့် အကျိုးတူဖက်စပ်လုပ်ကိုင်ရန် လိုအပ်ပါက "အငှားချထား သူ" နှင့်ညှိနှိုင်း၍ နိုင်ငံတော်မှ သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်နိုင်သည်။

(ပ) "အငှားချထားခြင်းခံရသူ" သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဖ) "အငှားချထားခြင်းခံရသူ" သည် ပတ်ဝန်းကျင်အနှောက်အယှက် အန္တရာယ်ဖြစ်စေမည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဗ) နိုင်ငံတော်မှ သတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာ လူမှုဘဝကိစ္စရပ်များနှင့် ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဖြေရှင်းရမည်။

(ဘ) "အငှားချထားခြင်းခံရသူ"သည် မြန်မာနိုင်ငံတံဆိပ်ခေါင်း အက်ဥပဒေပုဒ်မ ၂၉(ဂ) အရ ကျသင့်သည့် တံဆိပ်ခေါင်းခွန် ထမ်းဆောင်ရမည်။

(မ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) အငှားစာချုပ်ရုပ်စဲခြင်း ဖြစ်ပါ

က အဆောက်အဦ ခိုင်ခန့်မှုကို မထိခိုက်စေဘဲ အလွယ်တကူ ဖြုတ်ယူနိုင်သည့် အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြတ်တောက်ခြင်းများကို "အငှားချထားသူ"ထံ ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ခွင့်ရှိသည်။

(ဃ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်း အသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း(ရုံးချုပ်)သို့ ခွင့်ပြုချက်တောင်းခံ၍ ဆောင်ရွက်သွားနိုင်ပြီး စက်ရုံပြန်လည် လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသော စက်ပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများအား နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ မူလစာချုပ်ပါ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂) နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၄)နှင့်အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၄။ အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "**အငှားချထားခြင်းခံရသူ**"အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်းများကို အသုံးပြုခွင့်ပေးရ မည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ် ၊ ရေ၊ တယ်လီဖုန်းတို့ကို "**အငှားချထားခြင်းခံရသူ**" အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့် ပေးအပ်သော ကိုယ်စားလှယ်များ လိုအပ်ပါကစေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

( င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်း ညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို ဝန်ကြီးဌာနသို့တင်ပြ၍ လိုအပ်သလိုစီမံခန့်ခွဲခွင့်ရှိသည်။

(စ ) "အငှားချထားခြင်းခံရသူ" ၏ လုပ်ငန်းနှင့်မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကိုရှင်းလင်းရန်ဝန်ကြီးဌာနသို့တင်ပြ၍စီမံဆောင်ရွက်ခွင့်ရှိသည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့်ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဇ) စက်ရုံရှိ (နေ့စား/လခစား)ဝန်ထမ်းများအနက် "အငှားချထားခြင်းခံရသူ" (ကုမ္ပဏီ) သို့ လိုက်မည့်ဝန်ထမ်းများကို အထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ဈ) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ "အငှားချထားခြင်းခံရသူ"၏ အခက်အခဲများကို သက်ဆိုင်ရာဌာနများသို့ "အငှားချထားခြင်းခံရသူ" တို့နှင့် ညှိနှိုင်း၍တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ည) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ ငှားရမ်းသည့် သဘောတူစာချုပ်ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

၁၅။ မူလစာချုပ်တွင် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း ခေါင်းစဉ် အပိုဒ်(၁၅)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၅။ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင် နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများ ကိုဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည် ။

၁၆။ မူလစာချုပ်တွင် ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ် အပိုဒ်(၁၆)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

၁၇။ မူလစာချုပ်တွင် အာမခံထားရှိခြင်း ခေါင်းစဉ် အပိုဒ်(၁၇)အဖြစ် တဖက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

ကန့်သတ်

၁၀

**အာမခံထားရှိခြင်း**

၁၇။ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၁၈။ မူလစာချုပ်တွင် စာချုပ်ပြန်လည်ညှိနှိုင်းခြင်း ခေါင်းစဉ် အပိုဒ်(၁၈)အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည်-

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၁၈။ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

၁၉။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၃)အား အပိုဒ်(၁၉) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၀။ မူလစာချုပ်၏ အငြင်းပွားမှုဖြေရှင်းခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၄)အား အပိုဒ်(၂၀)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၁။ မူလစာချုပ်၏ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၅)အား အပိုဒ် (၂၁) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၂။ မူလစာချုပ်၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၆)အား ပယ်ဖျက်၍ အပိုဒ် (၂၂) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၂။ "**အငှားချထားခြင်းခံရသူ**"သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ(၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများကို "**အငှားချထားသူ**"သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါက ခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍ စာဖြင့်(၇)ရက် ကြိုတင်တင်ပြတောင်းခံညှိနှိုင်းဆောင်ရွက်ရမည်။

၂၃။ မူလစာချုပ်၏ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အား အပိုဒ် (၂၃)၊ အပိုဒ်(၁၈)အား အပိုဒ်(၂၄)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၄။ မူလစာချုပ်၏ စာချုပ်အတည်ဖြစ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၉)အား အပိုဒ်(၂၅)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၅။ မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၀)၊ အပိုဒ်(၂၁)တို့ကို ပယ်ဖျက်၍ အပိုဒ်(၂၆)၊ အပိုဒ်(၂၇)အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ပြင်ဆင်ခြင်း**

၂၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး**သို့ တင်ပြ၍ အတည်ပြုချက် ရယူဆောင်ရွက်နိုင်သည်။

၂၇။ "အငှားချထားခြင်းခံရသူ"မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှု မရှိခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင်အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ၊ ဝန်ထမ်းလစာနှင့်စရိတ်များ၊ ပင်စင်ထည့်ဝင်ကြေးများ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

၂၆။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၂)အား အပိုဒ်(၂၈)ဟု ပြောင်းလဲပြင်ဆင်ရမည်။ အဆိုပါ အပိုဒ်(၂၈)တွင် ပုဒ်မခွဲ(စ)အဖြစ် အောက်ပါအပိုဒ်ခွဲအား ထပ်မံဖြည့်စွက်ရမည်-

၂၈(စ)။ နိုင်ငံတော်၏ တည်ဆဲဥပဒေတစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း၊

၂၇။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၃)အား အပိုဒ်(၂၉)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၈။ မူလစာချုပ်၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့် ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၄)၊ (၂၅)၊ (၂၆)အား အပိုဒ်(၃၀)၊ (၃၁)၊ (၃၂)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၉။ မူလစာချုပ်တွင် အပိုဒ်(၃၃)၊ (၃၄)၊ (၃၅)၊ (၃၆)၊ (၃၇)၊ (၃၈)အဖြစ် အောက်ပါစာပိုဒ်များဖြင့် ထပ်မံ ဖြည့်စွက်ရမည် -

၃၃။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၄ ခုနှစ် ဇူလိုင် လ ၁၆ ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၅။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၆။ ဤစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၃၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၈။ ဤပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ် ဇူလိုင် လ [illegible] ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူ လက်မှတ်ရေးထိုးကြပါသည်။

**အငှားချထားသူ(ကိုယ်စား)**

ဦးရည်မွန်
ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ဦးမြင့်သိန်း
အုပ်ချုပ်မှုဒါရိုက်တာ၊
REVA CO.,LTD

အသိသက်သေ

ဦးသန်းထွန်း
ညွှန်ကြားရေးမှူး
ထုတ်လုပ်ရေးဌာန

ဦးကျော်ညွန့်
၁၂/ကတတ(နိုင်)၀၀၆၃၃၇
အမှတ်(၂၃၁)၊ကံ့ကော်မြိုင်လမ်း
သုဝဏ္ဏစုပေါင်းရပ်ကွက်
သဃ်န်းကျွန်းမြို့နယ်၊ရန်ကုန်မြို့

ဒေါ်ခင်မြင့်သီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ဦးမြင့်လွင်
၁၂/ကမရ(နိုင်)၀၄၂၃၄၆
အမှတ်-၂၀၄(က)
အောက်ကြည့်မြင်တိုင်လမ်း၊အလုံမြို့နယ်၊
ရန်ကုန်မြို့

7 ပုဒ် OLD

<u>ကန့်သတ်</u>

# စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

## REVA CO.,LTD

တို့

ချုပ်ဆိုသော

# ဖိနပ်စက်ရုံ (ကျောက်ဆည်) အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇွန်လ (၁၂) ရက်

<u>ကန့်သတ်</u>

# စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း နှင့် REVA CO.,LTD
# ဖိနပ်စက်ရုံ(ကျောက်ဆည်) အား
# စက်ရုံ မြေနှင့်အဆောက်အဦ ငှားရမ်းသည့် သဘောတူစာချုပ်

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၂ခုနှစ်၊ ဇွန်လ ( ၁၂ )ရက်နေ့၌ ဦးရည်မွန် ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း (နောင်တွင်အငှားချထားသူဟုခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် အဆိုပါလုပ်ငန်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်) ကတစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး၊ ပုဇွန်တောင်မြို့နယ်၊ သာယာကုန်း/နေကြာလမ်း တိုက်(၇)အခန်း(၃/၄) နေ ဦးမြင့်သိန်း၏ အမျိုးသားမှတ်ပုံတင်အမှတ် (၁၂/လသန(နိုင်)၀၀၄၁၅၂) ကိုယ်စားပြုသော **REVA CO., LTD** (နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်းတို့ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၁။ 'အငှားချထားသူ' သည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံ၊မြေ၊ အဆောက်အဦ၊စက်ပစ္စည်းကိရိယာများ ကို ပိုင်ဆိုင်သူ ဖြစ်ပြီး 'အငှားချထားခြင်းခံရသူ' သည် စာချုပ်ကို အကောင်အထည် ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများ ဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။ကုမ္ပဏီမှတ်ပုံတင်အထောက်အထား၊ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင်များ၏ စက်ရုံငှားရမ်းရေး သဘောတူညီမှုမှတ်တမ်းတို့အား နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။

## အငှားချထားမည့်ပစ္စည်းများ

၂။ 'အငှားချထားခြင်းခံရသူ' သည် အောက်ပါ 'အငှားချထားသူ' ပိုင် စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများကို ငှားရမ်း၍ ကွင်းထိုးဖိနပ်အမျိုးမျိုး၊ ခြေညှပ်ဖိနပ်အမျိုးမျိုး၊ EVA ဆိုးလ်ပြားများ၊ အောက်ဆိုးလ်များ၊ သဲကြိုးများထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့် တည်နေရာ - ဖိနပ်စက်ရုံ(ကျောက်ဆည်)၊ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၏ အရှေ့ဘက်(၄. ၄)မိုင်အကွာ၊ ကျောက်ဆည်စက်မှုနယ်မြေ၊

(ခ ) မြေ - ၂၅. ၉၄ ဧက
(ဂ ) အဆောက်အဦများ - နောက်ဆက်တွဲ (က)
(ဃ) စက်နှင့်စက်ပစ္စည်းများ - နောက်ဆက်တွဲ(ခ)
(င) ရုံးသုံးပစ္စည်းများ - နောက်ဆက်တွဲ(ဂ)
(စ) ရုံးသုံးပရိဘောဂများ - နောက်ဆက်တွဲ(ဃ)
(ဆ) မော်တော်ယာဉ်စာရင်း - နောက်ဆက်တွဲ(င)

**ငှားရမ်းမည့်အချိန်ကာလ**

၃။ ငှားရမ်းမည့် အချိန်ကာလမှာ ၂၀၁၂ခုနှစ်၊ဇူလိုင်လ(၁)ရက်နေ့မှ ၂၀၁၇ခုနှစ် ဇွန်လ(၃၀) ရက်နေ့အထိ (၅)နှစ်ကာလဖြစ်သည်။

**စာချုပ်သက်တမ်း**

၄။ ၂၀၁၂ ခုနှစ် ဇူလိုင်လ( ၁ )ရက်နေ့မှ ၂၀၁၇ ခုနှစ် ဇွန်လ (၃၀)ရက်နေ့အထိ (၅) နှစ်ဖြစ်ပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၅။ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လစာနှုန်း | ဦးရေ |
|---|---|---|
| (က) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၁ |
| (ခ) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၃ |
| (ဂ ) | ၁၂၀၀၀၀-၂၀၀၀-၁၃၀၀၀၀ | ၁ |
| (ဃ) | ၁၀၀၀၀၀-၂၀၀၀-၁၁၀၀၀၀ | ၅ |
| (င ) | ၆၅၀၀၀-၁၀၀၀-၇၀၀၀၀ | ၈ |
| (စ ) | ၅၉၀၀၀-၁၀၀၀-၆၄၀၀၀ | ၁၂ |
| (ဆ) | ၅၃၀၀၀-၁၀၀၀-၅၈၀၀၀ | ၇၆ |
| (ဇ) | ၄၇၀၀၀-၁၀၀၀-၅၂၀၀၀ | ၄ |
| (ဈ) | ၄၁၀၀၀-၁၀၀၀-၄၆၀၀၀ | ၁၈ |
| (ည) | နေ့စား | ၇ |
| | စုစုပေါင်း | ၁၃၅ |

ကန့်သတ်

ဝန်ထမ်းရေးရာကိစ္စရပ်များ

၆။ လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့် ပတ်သက်၍ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို လစဉ် လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းအရာတစ်စုံတစ်ရာကြောင့် လစာနှုန်းထားများ ပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့်နှုန်းထား အတိုင်းထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့် လစာနှင့် နှစ်တိုးကိုခံစားခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဆက်လက်တာဝန် ပေးအပ်ရမည်။

(င) ဝန်ထမ်းများ၏ လစာ၊ နှစ်တိုး၊ စရိတ်များအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများ အတိုင်း အငှားချထားခြင်းခံရသူမှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော် သတ်မှတ်နှုန်းထားထက် ပို၍ မပေးရ။ ဆုကြေးနှင့် စရိတ်များအား အငှားချ ထားခြင်း ခံရသူမှ သင့်လျော်သလို ပေးနိုင်သည်။

(စ) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းဆိုင်ရာ ကိစ္စရပ်များအား အငှားချ ထားသူ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များ အား နိုင်ငံတော်မှ သတ်မှတ်ထားသည့် ဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှ နုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက အငှားချထားသူထံ တင်ပြရမည်။

(ည) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကို သာ ပေးအပ်ရမည်။

(ဍ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(ဎ) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(ဍ) ဝန်ထမ်းများရာထူးအနွယ် (Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန်အချိန်ကျ ရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို အငှားချထားသူမှ ဆောင်ရွက်ရမည်။

(ဎ) ဝန်ထမ်းများ အလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဏ) ဝန်ထမ်းရေးရာကိစ္စများနှင့် ပတ်သက်၍ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဌဖြင့် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူ ဆောင်ရွက်ရမည်။

(တ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လျှက်ရှိသော ဝန်ထမ်းများအား ဆက်လက်နေထိုင်ခွင့်ပြုရမည်။ ဝန်ထမ်းအိမ်ရာများ၏ ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို အငှားချထားခြင်းခံရသူက တာဝန်ယူဆောင်ရွက်ရမည်။

**ငှားရမ်းခနှုန်းထား**

၇။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၂)ပါ စက်ရုံ မြေ ၊ စက်ပစ္စည်းများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂများ၊ အဆောက်အဦများ အပါအဝင် တစ်နှစ်လျှင် ကျပ်(၆၀. ၀၀၀)သန်း (ကျပ်သန်းခြောက်ဆယ်တိတိ) ဖြစ်ပါသည်။

၈။ ငှားရမ်းခအား (၆)လတစ်ကြိမ်ပြန်လည်သုံးသပ်၍ နှစ်ဦးသဘောတူညှိနှိုင်းပြီး စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအတည်ပြုချက်ဖြင့် ပြင်ဆင်သတ်မှတ်နိုင်သည်။

**ငှားရမ်းခပေးချေခြင်း**

၉။ အငှားချထားခြင်းခံရသူသည် (၃)လအတွက် ငှားရမ်းခကျသင့်ငွေ ကျပ်(၁၅. ၀၀၀)သန်းကို (၃)လ တစ်ကြိမ် (၃)လပြည့်သည့်လ၏နောက်ဆုံးပတ်အတွင်း ပေးသွင်းရမည်။

၁၀။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူသည် လိုအပ်ပါက(၃)လလျှင်တစ်ကြိမ် လုပ်ငန်းဆောင်ရွက်မှုအခြေအနေများအား ပြန်လည်သုံးသပ်၍ ငှားရမ်းခပေးချေမည့် အစီအစဉ်အား စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ ဆုံးဖြတ်မှုဖြင့် ပြန်လည်ပြင်ဆင် ဆောင်ရွက်နိုင်သည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၁၁။ 'အငှားချထားခြင်းခံရသူ' ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများနှင့် အခြားပရိဘောဂများကို နောက်ဆက်တွဲ(က)မှ(င)အထိပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(ခ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များဆောင်ရွက်နိုင်ရန် စက်ရုံစတင်ငှားရမ်းသည့်နေ့ထိရှိသည့်အတိုင်း စနစ်တကျထိန်းသိမ်း ဆောင်ရွက်ရမည်။

(ဂ) စက်ရုံအဆောက်အဦများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံခြင်းများ ဆောင်ရွက်ရမည်။

(ဃ) လုပ်ငန်းများတိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(င) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား အငှားချထားသူထံ လစဉ်ပေးပို့ရမည်။

(စ) အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(ဆ) အငှားချထားသည့် ပစ္စည်းများကို တဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည်တို့လုံးဝမပြုလုပ်ရ။

(ဇ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ သည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက အငှားချထားသူက နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ် များကို ဝင်ရောက်ခွင့်ပြုရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြား အခွန်အခများ နှင့် ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံ ပေးဆောင်ရမည်။

(ည ) ဤအငှားစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသောပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဋ) စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၃၀) ရက်အတွင်း အငှားချထားသူအား အငှားချထားသည့် ပစ္စည်းအားလုံးကို ငှားရမ်းစဉ်အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ အငှားချထားသူ၏လက်ဝယ်အရောက် လွှဲပြောင်းပေးအပ်ရမည်။

(ဌ) အငှားချထားသည့် စက်ရုံတွင်တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်းစာချုပ် သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ အငှားချထားသူပိုင် ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ် ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီက တည်းကနှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့်အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန် မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဍ) စက်ရုံကို လက်ခံသည့်နေ့တွင် စက်ရုံ၌ရှိသော စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများ အစရှိသည့် ကုန်ခမ်းနိုင်သည့် ပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့်တန်ဖိုးဖြင့် ဝယ်ယူပြီး အသုံးပြုနိုင်ခွင့်ရှိသည်။

(ပ) စက်ရုံငှားရမ်းသည့် အချိန်တွင် ကျန်ရှိမည့် ကုန်ကြမ်းများကို အဖွဲ့ဖြင့် တန်ဖိုးတွက်ချက် သတ်မှတ်၍ လွှဲပြောင်းဝယ်ယူရမည်။

(ဏ) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက် မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့် ရှိပြီး ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့် သိုလှောင်ခွင့် ၊ သယ်ယူခွင့်ရှိသည်။

(တ) စက်ရုံမှ လက်ရှိထုတ်လုပ်နေသော ကုန်အမှတ်တံဆိပ်ကို ဆက်လက်အသုံးပြုပါက အရည်အသွေးကျဆင်းမှုမရှိစေရန် စံချိန်စံညွှန်းနှင့်ကိုက်ညီသော ကုန်ကြမ်းများကို သတ်မှတ်ထားသော အချိုးအစားအတိုင်း အသုံးပြုထုတ်လုပ်ရမည်။

(ထ) မိမိ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် အငှားချထားခြင်းခံရသူ၏ တာဝန်သာဖြစ်သည်။

(ဒ) စက်ရုံမှ မထုတ်လုပ်ဘူးသော ကုန်ပစ္စည်းအမယ်သစ်ကို ထုတ်လုပ်လိုပါက အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်ရပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(ဓ) အငှားချထားသည့်စက်ရုံမှ ထွက်ရှိသောအခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကိုညစ်ညမ်းအောင်မပြုရ။သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

(န) အငှားချထားခြင်းခံရသူသည် ငှားရမ်းစက်ရုံနှင့်ပတ်သက်၍ ပတ်ဝန်းကျင်အတွက် အနှောက်အယှက်ဖြစ်စေမည့် ဆူညံသံများ၊ အခြား အနှောက်အယှက်ဖြစ်စေမည့် အန္တရာယ်ကိုကြိုတင်ကာကွယ်တားဆီးရမည်။ အကယ်၍ မလွဲမရှောင်သာဘဲ ဖြစ်ပွားပါကအငှားချထားခြင်းခံရသူကကိစ္စကျေနပ်ပြီးဆုံးသည့်တိုင်အောင်တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ပ) အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(ဖ) အငှားချထားခြင်းခံရသူမှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး အငှားချထားသူထံမိတ္တူတစ်စုံအပ်နှံထားရမည်။

(ဗ) စက်ကိရိယာများအား အမှန်တကယ်ထုတ်လုပ်နိုင်သည့် သတ်မှတ်စက်စွမ်းအားထက် ကျော်လွန်ထုတ်လုပ်ရန် အသုံးမပြုရ။ သတ်မှတ်ထားသည့် စက်ကြံ့ခိုင်ရေးများ ပြုလုပ်ရန် သင့်လျော်သော စက်ရပ်နားချိန်များ သတ်မှတ်ထားရမည်။

(ဘ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်၊ ဓါတ်ဆီတို့အား အငှားချထားခြင်းခံရသူ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(မ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထား အတိုင်းပေးချေရမည်။

(ယ) အငှားချထားသည့်စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး ၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(ရ) စက်ရုံရှိ မော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့်ပြုပြင်ထိန်းသိမ်းမှုများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(လ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို အငှားချထားခြင်းခံရသူမှ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းသို့ လစဉ်ပေးသွင်းရမည်။

**အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၂။ အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) အငှားချထားခြင်းခံရသူအား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံအခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကိုလည်းကောင်း နည်းလမ်းတကျလုပ်ပိုင်ခွင့် ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(င) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအားဆက်လက်အသုံးချခွင့်ပြုရမည့်အပြင် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား အငှားချထားခြင်းခံရသူမှ လစဉ် အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(စ) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဆ) အငှားချထားသည့်စက်ရုံနှင့် သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေးကြပ်မတ်ဆောင်ရွက်ရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၁၃။ အငှားချထားခြင်းခံရသူသည် စက်ရုံငှားရမ်းရေးစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ စက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့်ကာလနှင့် ငှားရမ်းခနှုန်းထားကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် အငှားချထားသူထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ(၃) လ ကြိုတင်၍စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့်ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသက်မှတ်ရမည်။ ထိုသို့ သက်တမ်းတိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထား ပြင်ဆင်ခြင်း တို့သည် စက်မှုဝန်ကြီးဌာန ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်း အဝေး၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၄။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေ နှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

**သယံဇာတပစ္စည်းဆိုင်ရာကိစ္စ**

၁၅။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်း များ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရ အဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့် အချိန်တွင် မဆိုလွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၆။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း ကာလကုန်ဆုံးသည့် အခါ ဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့ မှ(၁)လအတွင်း အငှားချထားသည့်စက်ရုံ၊ မြေ၊ အဆောက်အဦများကို အငှားချထားသူသို့ အဖိုး စားနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၁၇။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူတို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ ။

၁၈။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့်စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၁၉။ ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးပြီးသည့် နေ့မှစ၍ အတည်ဖြစ်သည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၀။ ဤစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ပြုလုပ်လိုပါက အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့်သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာနစီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၁။ အငှားချထားသည့်ခံရသူမှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရတွက်ချေကိုက်မှုမရှိခြင်း၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လ ကြိုတင်အကြောင်းကြားရမည်။

စာချုပ်ရုပ်စဲခြင်း

၂၂။ စာချုပ်ရုပ်စဲခြင်းနှင့်ပတ်သက်၍ အောက်ပါအကြောင်းအရပ်များတစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရုပ်စဲခွင့်ရှိသည်-

(က) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း အစရှိသော မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရုပ်စဲလိုပါက ရုပ်စဲလိုကြောင်းစာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင်နို့တစ်ပေးခြင်း။

(ဂ) စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူမှ ဖောက်ဖျက်ကျူးလွန်ခြင်း။

(ဃ) အငှားချထားခြင်းခံရသူက လူမွဲအဖြစ်ခံယူသွားခြင်း။

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၂၃။ စာချုပ်သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ ပုဂ္ဂလိကပိုင်ပြုလုပ်ရန်ဖြစ်စေ အငှားချထားသူမှ (၃) လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကို ရုပ်စဲနိုင်သည်။ ယင်းသို့ဆောင်ရွက်ရာတွင် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီသို့ တင်ပြအတည်ပြုချက် ရယူရမည်။

ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၄။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူကယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့) လိုက်နာရန် အငှားချထား ခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်းလိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်စက်ရုံကို ပြန်လည်ဝင်ရောက်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၅။ ဤစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

၂၆။ ဤစာချုပ်သည် နိုင်ငံတော်၏ မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၂၇။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ အစုံအလင် ရှေ့မှောက်တွင် ၂၀၁၂ ခုနှစ်၊ ဇွန်လ( ၁၂ )ရက်နေ့ ၌ အငှားချထားသူနှင့်အငှားချထား ခြင်းခံရသူတို့ လက်မှတ်ရေးထိုး ကြပါသည်-

**အငှားချထားသူ(ကိုယ်စား)**

ဦးရည်မွန်
ဦးဆောင်ညွှန်ကြားရေးမှူး
(စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ဦးမြင့်သိန်း
အုပ်ချုပ်မှုဒါရိုက်တာ
**(REVA CO.,LTD)**

**အသိသက်သေများ**

လက်မှတ်
အမည် ဦးသန်းထွန်း
ရာထူး ညွှန်ကြားရေးမှူး(ထုတ်လုပ်မှုစီမံရေး)
လိပ်စာ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

လက်မှတ်
အမည် ဦးကျော်ညွန့်
မှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၀၆၃၃၇
လိပ်စာ အမှတ်(၂၃၁)၊ ကံ့ကော်မြိုင်လမ်း၊ သုဝဏ္ဏစုပေါင်းရပ်ကွက်၊ သင်္ဃန်းကျွန်းမြို့နယ်

လက်မှတ်
အမည် ဒေါ်စိုးစိုးဦး
ရာထူး ညွှန်ကြားရေးမှူး(ဘဏ္ဍာရေးဌာန)
လိပ်စာ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

လက်မှတ်
အမည် ဦးမြင့်လွင်
မှတ်ပုံတင်အမှတ် ၁၂/ကမရ(နိုင်) ၀၄၂၃၄၆
လိပ်စာ အမှတ်၊ ၂၀၄(က)၊ အောက်ကြည့်မြင်တိုင်လမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့



D:\Sandarwin\Daw Htar Htar Jpg\Rent factory\footwear(kyauk-se)

၁၃

| | | | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အမည် | ဦးအောင်နိုင်ဦး | အမည် | ဦးဇော်မင်းထွန်း |
| ရာထူး | အထွေထွေမန်နေဂျာ | မှတ်ပုံတင်အမှတ် | ၁၂/ဥကတ(နိုင်)၁၃၇၆၃၁ |
| လိပ်စာ | ဖိနပ်စက်ရုံ(ကျောက်ဆည်) | လိပ်စာ | အမှတ်(၂၈)၊ ၁၇ လမ်း၊ (၁)ရပ်ကွက်၊ လသာမြို့နယ် ရန်ကုန်မြို့ |

ဤစာချုပ်သည် (၈. ၆. ၂၀၁၂)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ (၆/၂၀၁၂-၂၀၁၃)ခွင့်ပြုချက်အရ သဘောတူစာချုပ်ချုပ်ဆိုခြင်းဖြစ်ပါသည်။

ကျသင့်တံဆိပ်ခေါင်းခွန် သိန်းသုံးဆယ်ကျပ်တိတိ ကို-
(၃၀-၆-၂၀၁၄) နေ့တွင်၊ ချလံအမှတ် (၁၂) ဖြင့်၊ ကျောက်ဆည်
မြို့နယ်တွင်၊ ပေးသွင်းပြီး ဖြစ်ပါသည်။ (ပြည်ထောင်စုသမ္မတ
မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ သဘောတူညီချက် အရ၊ ဘဏ္ဍာ
ရေးဝန်ကြီးဌာန၏ ၂၃-၆-၂၀၁၄ ရက်စွဲပါ စာအမှတ်၊
ဘ၁-၂/၀၁ (၃၄၉၃/၂၀၁၄) အရ)။




30/6/14

(ရွှေကြိုင်ထွန်း)
မြို့နယ်အခွန်ဦးစီးဌာနမှူး
ကျောက်ဆည်မြို့။

သက်တမ်းတိုး



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၆၉၁ / ၁၉၉၅ - ၁၉၉၆

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ရီဗား ကုမ္ပဏီ လီမိတက် ..........................................

.......................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၆ ခုနှစ်၊ မတ်.........လ၊ ..၇.. ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

(အေးကို)

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL, PRODUCTION

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 1691 of 1995 - 1996

I hereby certify that REVA COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this SEVENTH day of MARCH, ONE THOUSAND NINE HUNDRED AND NINETY SIX.

(AYE KO)
DIRECTOR GENERAL
Directorate of Investment and Company Administration

Registrar of Joint Stock Companies
Companies Registration Office

စက်ရုံအလုပ်ရုံ တည်ရှိရာအရပ်သည်
စက်မှုလက်မှုဇုံကွင်း ဖြစ်စေရမည်။
(သို့မဟုတ်) လူနေရပ်ကွက်နှင့်ကင်း၊
လွတ်ရာအရပ်၌ဖြစ်စေရမည်။

